# Bel Ga Myanmar Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

## အသားစားမျိုးရင်းကြက် မွေးမြူရေး လုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက် တင်ပြလာခြင်း | | ၄-၁၁-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထား တောင်းခံခြင်း<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး<br>- ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | <br>၂၆-၁၁-၂၀၁၉<br>၂၆-၁၁-၂၀၁၉<br>၂၆-၁၁-၂၀၁၉ | <br>၁၁-၁၂-၂၀၁၉<br>၂၉-၁၁-၂၀၁၉<br>၁၄-၂-၂၀၂၀ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၄၀/၂၀၁၉ (၂၅-၁၁-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၆-၁၁-၂၀၁၉ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂-၁၂-၂၀၁၉ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်း | ၁၁-၁၂-၂၀၁၉ | | |
| ၇ | အဆိုပြုချက် ပြန်လည်ပေးပို့ခြင်း | ၃၀-၁-၂၀၂၀ | | အဆိုပြုချက် သည် ရက်ပေါင်း ၆၀ ကျော်နေခြင်းနှင့် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသောကြောင့်အဆိုပြုချက်အား ပြန်လည်ပေးပို့ခဲ့ပါသည်။ |

| | | | | |
|---|---|---|---|---|
| ၈ | ကုမ္ပဏီမှ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထား ပြန်ကြားလာပါသဖြင့်အဆိုပြုချက် အား ပြန်လည်တင်ပြလာခြင်း | | ၂၀-၂-၂၀၂၀ | |
| ၉ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၄/၂၀၂၀<br>၆-၃-၂၀၂၀ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၁၆) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | Bel Ga Myanmar Limited |
| လုပ်ငန်းအမျိုးအစား | အသားစားမျိုးရင်းကြက် မွေးမြူရေး လုပ်ငန်း |
| PATအကြိမ်/နေ့စွဲ | ၄၀/၂၀၁၉ (၂၅-၁၁-၂၀၁၉) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး ✓<br>မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းစာရင်းအား အသေးစိတ် တင်ပြရန်။ | ✓ | |
| ၃ | မြေငှားစာချုပ် ပြင်ဆင်တင်ပြရန်။ | ✓ | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ အသားစားမျိုးရင်းကြက်မွေးမြူရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု ချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Bel Ga Myanmar Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Carl Albert M. Destrooper (Belgian) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>BDH Azie B.V. ၉၉.၉၉၉၈%<br>(The Netherlands) နှင့်<br>De Heus (Myanmar) Limited ၀.၀၀၀၂%<br>(Myanmar) |
| | လုပ်ငန်းအမျိုးအစား | - အသားစားမျိုးရင်းကြက်မွေးမြူရေးလုပ်ငန်း (Broiler Chick Parent Stock Farm) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၂၆၊ကွင်းအမှတ်-OSS/၇၂၊ ကြေးတိုင်ပြင်ကွင်း၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်း ဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - ဒေါ်တင်မြင့် (လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်ထားဆဲဖြစ်ပါသည်။) |
| | မြေအကျယ်အဝန်း | စုစုပေါင်း မြေ ၃၆.၅၂ ဧက |
| | အဆောက်အဦ အကျယ်အဝန်း | Rearing House (120 M x 7 M) ၆ လုံး<br>Production House (120 M x 14 M) ၄ လုံး<br>Rearing House (120 M x 7M) ၈ လုံး<br>Worker House (60 ft x 30 ft) ၁ လုံး<br>Welfare (60 ft x 30 ft) ၁ လုံး |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်ဧကလျှင် နှစ် ၅၀ ငှားရမ်းခအတွက် ကျပ် ၂၄,၃၇၀,၂၀၈ ဖြင့် စုစုပေါင်း ၃၆.၅၂ ဧကလျှင် နှစ် ၅၀ ငှားရမ်းခ အတွက် ကျပ် ၈၉၀,၀၀၀,၀၀၀ |
| | မြေနှင့်အဆောက်အဦ ငှားရမ်းအသုံးပြုခွင့် သက်တမ်း | - ကနဦး (၅၀)နှစ် နှင့် ၁၀ နှစ် (၂)ကြိမ် သက်တမ်းတိုး |

၅။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၅၀ နှစ်

တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ - ၁ နှစ်

၆။ စုစုပေါင်းမတည်ငွေရင်း – အမေရိကန်ဒေါ်လာ ၆.၈၃၄ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၄.၃၃၄ သန်း အပါအဝင်)

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | ၂.၅၀၀ | ၂.၃၀၅ | ၄.၈၀၅ |
| - စက်ပစ္စည်းများ၊ စက်ကိရိယာများ | | ၂.၀၂၉ | ၂.၀၂၉ |
| စုစုပေါင်း | ၂.၅၀၀ | ၄.၃၃၄ | ၆.၈၃၄ |

၇။ ဝန်ထမ်းအင်အား - ၆၇ ဦး

ပြည်တွင်း - ၆၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၄၀၀,၀၀၀ဖြစ်ပါသည်။)

ပြည်ပ - ၂ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%

ထုတ်လုပ်မှု (ပထမနှစ်)

| အမျိုးအစား | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း |
|---|---|---|
| Hatching Eggs (egg) | ၆,၇၂၀,၀၀၀ (egg) | ၅၀၀ (ကျပ်/Egg) |
| Chicken (kg) | ၁၅၄,၉၈၀ (kg) | ၂,၀၀၀ (ကျပ်/ kg) |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၆၄၄,၉၆၇ kWh

၁၀။ အခြားတင်ပြချက် - မြေအထောက်အထားအဖြစ် ဒေါ်တင်မြင့်အမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့် လက်မှတ်ရရှိထားပြီး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့်လျှောက်လွှာ ပုံစံ (၁၄)နှင့် မြေစာရင်းပုံစံ (၁၀၃)တို့ကို တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - မြေအသုံးပြုခွင့်ရရှိသူ ဒေါ်တင်မြင့်နှင့် Bel Ga Myanmar Limited တို့ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ တည်နေရာပြမြေပုံ နှင့် အဆောက်အဦ Layout Plan တို့ကို တင်ပြထားပါသည်။<br>- Bel Ga Myanmar Limited ၏ ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြထားပါသည်။<br>- BDH Azie B.V ၏ The Netherlands Chamber of Commerce Commercial Register extract အထောက်အထား တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Bel Ga Myanmar Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ OCBC Bank တွင် ၃၀-၈-၂၀၁၉ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၃၇၈,၇၃၆.၀၀၊ မြန်မာ ကျပ် ၈၈,၈၃၉,၁၅၄.၀၉ နှင့် ယူရို ၃၂,၁၃၀.၈၇ ကို လည်းကောင်း၊ ရိုးမဘဏ်တွင် ၀၀၇၉၄၅၁၉၈၀၀၀၁၄၂ ဖြင့် ၃၀-၁-၂၀၂၀ ရက်နေ့ အထိ ကျပ် ၁၆၇,၆၆၈,၀၈၃.၀၄ ၊ ၀၀၂၆၁၀၂၃၆၀၀၀၀၃၃ ဖြင့် ၂၈-၁-၂၀၂၀ ရက်နေ့ အထိ ကျပ် ၁၈၆,၃၀၅,၁၅၀.၀၀ နှင့် ၀၀၇၉၁၀၂၇၅၀၀၀၀၂၂ ဖြင့် ၁၁-၁-၂၀၂၀ ရက်နေ့ အထိ ကျပ် ၂,၉၉၈,၈၉၂,၄၀၀.၀၀ ကိုလည်းကောင်း၊ ရောဝတီဘဏ်တွင် ၀၁၃၄၁၁၃၀၁၀၀၀၀၃၄၆၁ ဖြင့် ၂-၉-၂၀၁၉ ရက်နေ့အထိ ကျပ် ၁၂၂,၇၈၀,၇၂၂.၀၀ နှင့် ၀၀၂၆၁၀၂၃၆၀၀၀၀၃၃ ဖြင့် ၁၆-၉-၂၀၁၉ ရက်နေ့အထိ ကျပ် ၁၁၇,၀၇၉,၆၉၀.၀၀ ကိုလည်းကောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် BDH Azie B.V မှ ချေးငွေ US$ ၄.၃၃၄ သန်းအား အတိုးနှုန်း ၄.၄% ဖြင့် ချေးယူမည်ဖြစ်ပြီး ပြန်လည်ပေးဆပ်မည့် အစီအစဉ်အား ပူးတွဲတင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် US$ ၂,၀၂၈,၆၃၂ တန်ဖိုးရှိ စက်ပစ္စည်းစာရင်း တင်ပြထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်ရန် PS DOC များကို ပြည်ပ မှ နှစ်စဉ်တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် ပစ္စည်းနမူနာပုံစံ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန် (၂)တွင် ပါဝင်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၅၇/၂၀၂၀( ၀၆၃ )
ရက်စွဲ ၊ ၂၀၂၀ ခုနှစ် မတ်လ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ အသားစားမျိုးရင်းကြက် မွေးမြူရေး လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ နယ်သာလန်နိုင်ငံရှိ BDH Azie BV မှ (၉၉.၉၉၉၈%) နှင့် မြန်မာနိုင်ငံရှိ De Heus (Myanmar) Limited မှ (၀.၀၀၀၂%) အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Bel Ga Myanmar Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင် အမှတ်-၂၆၊ ကွင်းအမှတ်-OSS/၇၂၊ ကြေးတိုင်ပြင်ကွင်း၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ (၃၆.၅၂) ဧကအား ငှားရမ်း၍ အသားစား မျိုးရင်းကြက်မွေးမြူရေး လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် ဒေါ်တင်မြင့်အမည်ဖြင့် လယ်ယာမြေ လုပ်ပိုင်ခွင့် လက်မှတ်ရရှိထားပြီး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့်လျှောက်လွှာ ပုံစံ (၁၄)နှင့် မြေစာရင်းပုံစံ (၁၀၃)တို့ကို တင်ပြထားပြီး မြေအသုံးပြုခွင့်ရရှိသူဒေါ်တင်မြင့်နှင့် Bel Ga Myanmar Limited တို့ ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ တည်နေရာပြ မြေပုံနှင့် အဆောက်အဦ Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် ကျပ် ၄၈၇,၄၀၄.၁၆ ဖြင့် စုစုပေါင်း ၃၆.၅၂ ဧကအတွက် နှစ် ၅၀ ငှားရမ်းခမှာ ကျပ် ၈၉၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၆.၈၃၄ သန်း (ချေးငွေ US$ ၄.၃၃၄ သန်း အပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | ၂.၅၀၀ | ၂.၃၀၅ | ၄.၈၀၅ |
| - စက်ပစ္စည်းများ၊ စက်ကိရိယာများ | | ၂.၀၂၉ | ၂.၀၂၉ |
| စုစုပေါင်း | ၂.၅၀၀ | ၄.၃၃၄ | ၆.၈၃၄ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၆၅)ဦးနှင့် ပြည်ပဝန်ထမ်း (၂)ဦး စုစုပေါင်း (၆၇)ဦးခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၄၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ကြက်ဥများကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း |
|---|---|---|
| Hatching Eggs (egg) | ၆,၇၂၀,၀၀၀ (egg) | ၅၀၀ (ကျပ်/egg) |
| Chicken (kg) | ၁၅၄,၉၈၀ (kg) | ၂,၀၀၀ (ကျပ်/ kg) |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း ကြက်မွေးမြူမှု ဖွံ့ဖြိုးတိုးတက်လာပြီး လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ စားနပ်ရိက္ခာဖူလုံမှုကို အထောက်အကူ ပြုစေနိုင်ခြင်းတို့ကြောင့် ကောင်းမွန်သော မွေးမြူရေး ကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(က)

(ခ) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ပြုလုပ်မည့် မြေသည် (ဥယျာဉ်မြေ) အမျိုးအစား ဖြစ်ပါသဖြင့် ၂၀၁၂ ခုနှစ်၊ လယ်ယာမြေ ဥပဒေအရ လယ်ယာမြေအား အခြားနည်းအသုံးပြုခွင့် လျှောက်ထားရယူပြီးမှသာ သက်ဆိုင်ရာ ဌာနများ၏ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းသဘောထားပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ခ)

(ဂ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ဂ)

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Bel Ga Myanmar Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ OCBC Bank တွင် ၃၀-၈-၂၀၁၉ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၃၇၈,၇၃၆.၀၀၊ မြန်မာ ကျပ် ၈၈,၈၃၉,၁၅၄.၀၉ နှင့် ယူရို ၃၂,၁၃၀.၈၇ ကိုလည်းကောင်း၊ ရိုးမဘဏ်တွင် ၀၀၇၉၄၅၁၉၈၀၀၀၀၄၂ ဖြင့် ၃၀-၁-၂၀၂၀ ရက်နေ့အထိ ကျပ် ၁၆၇,၆၆၈,၀၈၃.၀၄၊ ၀၀၂၆၁၀၂၃၆၀၀၀၀၃၃ ဖြင့် ၂၈-၁-၂၀၂၀ ရက်နေ့အထိ ကျပ် ၁၈၆,၃၀၅,၁၅၀.၀၀ နှင့် ၀၀၇၉၁၀၂၇၅၀၀၀၀၂၂ ဖြင့် ၁၁-၁-၂၀၂၀ ရက်နေ့အထိ ကျပ် ၂,၉၉၈,၈၉၂,၄၀၀.၀၀ ကိုလည်းကောင်း၊ ဧရာဝတီဘဏ်တွင် ၀၁၃၄၁၁၃၀၁၀၀၀၃၄၆၁ ဖြင့် ၂-၉-၂၀၁၉ ရက်နေ့အထိ ကျပ် ၁၂၂,၇၈၀,၇၂၂.၀၀ နှင့် ၀၀၂၆၁၀၂၃၆၀၀၀၀၃၃ဖြင့် ၁၆-၉-၂၀၁၉ ရက်နေ့အထိ ကျပ် ၁၁၇,၀၇၉,၆၉၀.၀၀ ကို လည်းကောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် BDH Azie B.V မှ ချေးငွေ US$ ၄.၃၃၄ သန်းအား အတိုးနှုန်း ၄.၄% ဖြင့် ချေးယူမည် ဖြစ်ပြီး ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား ပူးတွဲတင်ပြထားပါသည်။

၁၁။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၀/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0146 တွင် အကျုံးဝင်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၄။ ရခိုင်နန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ အသားစားမျိုးရင်းကြက် မွေးမြူရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

၂၊၂၊၁၀

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က) ဒုရ ၃၆၆
16.12

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

mp ၂-1015
13.12.19

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၄၀၄ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၁၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၅၇/၂၀၁၉ (၃၇၁)

၁။ Bel Ga Myanmar Limited သည် ရခိုင်နွန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၂၆၊ ကွင်းအမှတ်- OSS/၇၂ ၊ ကြေးတိုင်ပြင်ကွင်း၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ (၃၆.၅၂) ဧက အား ငှားရမ်း၍ အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး၊ တိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးချက်များအရ-

(က) ၎င်းမြေနေရာသည် ဒေါ်တင်မြင့် ပိုင်ဆိုင်သော မြေ (၃၆.၅၂) ဧကဖြစ်ပြီး မြေပေါ်တွင် ရာဘာပင် (၅၀)% စိုက်ပျိုးထားကြောင်း၊ အရှေ့ဘက်နှင့် မြောက်ဘက်တွင် ဦးသန်းဇော်မှ ရာဘာပင် ဧက(၂၀၀) ခန့် စိုက်ပျိုးထားပြီး တောင်ဘက်တွင် ဦးခင်မောင်ဝင်းမှ ပိန္နဲပင် (၁၈.၂၁)ဧကခန့် စိုက်ပျိုးထားကြောင်း၊ အနောက်ဘက်တွင် ရန်ကုန်-နေပြည်တော် အမြန်လမ်းမကြီး၌ တည်ရှိကြောင်း၊

(ခ) ဆောက်လုပ်မည့် ကြက်မွေးမြူရေး ထုတ်လုပ်ရေးရုံ (၁)ခုစီသည် အနံ (၁၄) မီတာနှင့် အလျား (၁၁၈)မီတာ ကျယ်ဝန်းကြောင်း သိရှိရပြီး သာမန်မွေးမြူရေးရုံတစ်ခုသည် ကြက်ကောင်ရေ (၁၄၈၇၀)ခန့် မွေးမြူထားရှိနိုင်ပြီး ဥထုတ်လုပ်ရေးရုံတွင် ကြက်မကောင်ရေ (၉၉၁၀)ကောင်နှင့် ကြက်ဖကောင်ရေ (၉၉၁) ကောင်ခန့် ထည့်သွင်း မွေးမြူမည်ဖြစ်ကြောင်း၊

(ဂ) အစာကျွေးခြင်း၊ ရေတိုက်ခြင်း၊ မီးအပူပေးခြင်း၊ အပူအအေးမျှတစေခြင်း၊ အလင်းရောင်ပေးခြင်း၊ ဥကျင်းဝပ်ခြင်းစနစ်များနှင့် စီမံခန့်ခွဲမှုကွန်ယက်ဆိုင်ရာ စက်ပစ္စည်းများအပါအဝင် ကြက်ခြံအား ဥရောပတိုက်မှ တင်သွင်းထားသော ခေတ်မီနောက်ဆုံးပေါ် စက်ပစ္စည်းများ သုံးစွဲမည်ဖြစ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ BelGa Myanmar Limited သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်ရှိ မြေ (၃၆.၅၂)ဧကအား ငှားရမ်း၍ အသားစားမျိုးရင်းကြက် မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်းကြက်မွေးမြူမှု ဖွံ့ဖြိုးတိုးတက်လာပြီး လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ စားနပ်ရိက္ခာဖူလုံမှုကို အထောက်အကူပြုစေနိုင်ခြင်းတို့ကြောင့် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice- GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ

- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှော

နောက်ဆက်တွဲ (ခ)

ပဲခူးတိုင်းဒေသကြီး
စာအမှတ်
ရက်မှ
အချိန်
ပဲခူးမြို့

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့**
**ပဲခူးမြို့**

စာအမှတ်၊ ၄ / ၈ - ၂ / ၉ / ဦး ၆ ( ၀၁၄၆၂ )
ရက် စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆.၁၁.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက - ၂ / ခ - ၀၅၇ / ၂၀၁၉ (၃၇၂)

၁။ နယ်သာလန်နိုင်ငံရှိ BDH Azie BV မှ (၉၉.၉၉၉၈%)နှင့် De Heus(Myanmar) Limited.မှ (၀.၀၀၀၂%) အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Bel Ga Myanmar Limited.မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(OSS- ၇၂)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၂၆)၊ မြေဧရိယာ(၃၆.၅၂) ဧကအား ငှားရမ်း၍ အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ Bel Ga Myanmar Limited.၏ အဆိုပြုတင်ပြချက်နှင့် ပတ်သက်၍ စိစစ်ရာတွင် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည့် မြေနေရာ ဖြစ်ပါကြောင်း၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေပြီး၊ မြို့နယ်ဒေသဖွံ့ဖြိုးရေးအတွက်လည်း အထောက်အကူပြုနိုင်ပါကြောင်း၊

(ဂ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(OSS- ၇၂)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၂၆)၊ မြေဧရိယာ (၃၆.၅၂)ဧကသည် ပဲခူးခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၁၁.၃.၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၆၃၅/လယ်-စီ/လယ်-စီ(ခရိုင်)အရ ဒေါ်တင်မြင့်အမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့်ပြုလက်မှတ်ပုံစံ(၇) ရရှိထားသည့် (ဥယျာဉ်မြေ)အမျိုးအစားဖြစ်ပါကြောင်း

Kay 191

နှင့်၂၀၁၂- ခုနှစ်၊ လယ်ယာမြေဥပဒေနှင့် အညီ အခြားနည်းအသုံးပြုခွင့် ခွင့်ပြုမိန့် ရရှိပြီးမှသာ လုပ်ငန်းဆောင်ရွက်သင့်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ Bel Ga Myanmar Limited.၏ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(OSS- ၇၂)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၂၆)၊ မြေဧရိယာ(၃၆.၅၂)ကေသည် (ဥယျာဉ်မြေ)အမျိုးအစားဖြစ်ပါသဖြင့် ၂၀၁၂- ခုနှစ်၊ လယ်ယာမြေဥပဒေအရ လယ်ယာမြေအား အခြားနည်းအသုံးပြုခွင့် လျှောက်ထားရယူပြီးမှသာ သက်ဆိုင်ရာဌာနများ၏ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအား ဆောင်ရွက်မည်ဆိုပါက ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
ညွှန့်ဆွေ၊ ဝန်ကြီး
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ပဲခူးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ပဲခူးမြို့

Bel Ga Myanmar Limited.

မျှောစာတွဲ

လက်ခံစာတွဲ

Kay 192

နောက်ဆက်တွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC (OSS)/ ၀၁ ( ၈၅ /၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Bel Ga Myanmar Limited မှ အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၁၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၅၇/၂၀၁၉(၃၇၀)

၁။ နယ်သာလန်နိုင်ငံရှိ BDH Azie BV မှ ၉၉.၉၉၉၈% နှင့် De Heus (Myanmar) Limited မှ ၀.၀၀၀၂% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Bel Ga Myanmar Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၂၆၊ ကွင်းအမှတ်- OSS/၇၂၊ ကြေးတိုင်ပြင်ကွင်း၊ စစ်ပင်ဆိပ်ကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ ၃၆.၅၂ ဧက(၁၄၇,၇၉၁.၁၈ စတုရန်းမီတာ)အား ငှားရမ်း၍ အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိ ရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၁၄၇,၇၉၁.၁၈ စတုရန်းမီတာ) ပေါ်တွင် အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ရန်အတွက် လိုအပ်သော အဆောက်အဦအလုံး (၂၀) အားတည်ဆောက်ကာလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှပထမနှစ်တွင်ကြက်မကောင်ရေ (၃) သောင်းကျော်နှင့် ဒုတိယနှစ်မှစ၍ (၁၀) နှစ်အတွင်းနှစ်စဉ် ကြက်မအကောင်ရေ (၉) သောင်းကျော်ခန့်တင်သွင်းမည်ဖြစ်ပြီး၊ နှစ်စဉ်ကြက်ဥအလုံးရေ (၁၅) သန်းကျော်နှင့် ကြက်သား (၃၈၇,၄၅၀ ကီလိုဂရမ်) ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှနှစ်စဉ်ရေကုဗီတာ (၁၂၆,၁၅၄$m^3$) ခန့်အားအသုံးပြုကာလုပ်ငန်းဆောင်ရွက်မည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Bel Ga Myanmar Limited မှ အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင်ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့်ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင်လိုအပ်သည့်ရေအားစနစ်တကျထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျသန့်စင်ခြင်းမရှိဘဲစွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ မျိုးရင်းကြက်မွေးမြူရာတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန်အသုံးပြုသည့်ဟိုမုန်းဆေးများ၏ အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုညစ်ညမ်းခြင်း၊

(စ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးကြက်တွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Bel Ga Myanmar Limited မှ အသားစားမျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအ**

စဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး
ရုံးလက်ခံ